(၁)

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရုံးအမှတ်(၃၂)၊ နေပြည်တော်

ဖက်(စ်)၊ ၉၅-၆၇-၄၀၆၃၃၃ ဖုန်း၊၀၆၇-၄၀၆၃၃၄၊ ၄၀၆၀၇၅

စာအမှတ်၊ရက-၆(ခ)/န-၆၆၈/၂၀၁၂ (၈၅၇၄)

ရက်စွဲ၊ ၂၀၁၂ခုနှစ်၊ ဇူလိုင်လ ၃ ရက်

### မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့် အမှာစာ

အကြောင်းအရာ။ **Blue Ocean Myanmar Ltd. တည်ထောင်၍ မန္တလေးတိုင်းဒေသကြီး၊ ပျော်ဘွယ်မြို့၊ ချောင်းမကြီး၊ ဝါစိုက်ပျိုး ရေးခြံနှင့် ယင်းတော်ဝါကြိတ်စက်ရုံတွင် အရည်အသွေးကောင်း ဝါမျိုးစေ့များ အဆင့်အတန်းမြင့် ထုတ်လုပ်ခြင်း၊ ဝါကြိတ်စက်နှင့် ဝါစေ့ဆီကြိတ်စက်များ အဆင့်မြှင့်တင်ခြင်းလုပ်ငန်းများ ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်းကိစ္စ**

၁။ အထက်အကြောင်းအရာပါကိစ္စနှင့် စပ်လျဉ်း၍ အိန္ဒိယနိုင်ငံ မှ Blue Ocean Global Private Ltd. သည် မန္တလေးတိုင်းဒေသကြီး ပျော်ဘွယ်မြို့နယ်၊ ချောင်းမကြီး၊ ဝါစိုက်ပျိုးရေးခြံနှင့် ယင်းတော်ဝါကြိတ်စက်ရုံတွင် အရည်အသွေးကောင်းဝါမျိုးစေ့များ အဆင့်အတန်းမြင့် ထုတ်လုပ်ခြင်း၊ ဝါကြိတ်စက်နှင့် ဝါစေ့ ဆီကြိတ်စက်များကို အဆင့်မြှင့်တင်ခြင်းလုပ်ငန်းများကို ရာနှုန်းပြည့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံ ဆောင်ရွက်ခွင့် ပြုပါရန် လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် သို့ အဆိုပြုတင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့် အတူ ရှေ့နေချုပ်ရုံး၊ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန၊ နိုင်ငံခြားစီးပွား ဆက်သွယ်ရေးဦးစီးဌာန၊ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ကန့်ကွက်ရန်မရှိကြောင်း သဘောထား မှတ်ချက်များ၊ လုပ်ငန်းဆောင်ရွက်ရမည့် မြေနေရာကို ဖော်ပြသည့် မြေပုံများ၊ မြေရှင်ဖြစ်သော လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာနနှင့် အိန္ဒိယနိုင်ငံ Blue Ocean Global Private Ltd. တို့ အကြားချုပ်ဆိုမည့် Production Sharing Agreement (မူကြမ်း) မြန်မာနိုင်ငံတွင် ဖွဲ့စည်းမည့် Blue Ocean Myanmar Ltd. ၏ MOA , AOA မူကြမ်း များကိုလည်း ပူးတွဲတင်ပြ ထားပါသည်။

၃။ လုပ်ငန်း၏ ကနဦး ရင်းနှီးမြှုပ်နှံမှုမှာ US$ ၄.၅၀ သန်း ဖြစ်ပြီး ၎င်းတွင် ငွေသား US$ ၁.၅၀ သန်းနှင့် စက်နှင့်စက်ပစ္စည်း ကိရိယာ US$ ၃.၀၀သန်း တို့ပါဝင်ပါသည်။ စက်နှင့် စက်ပစ္စည်း ကိရိယာများကို ချေးငွေဖြင့် ရယူမည်ဖြစ်ပြီး အတိုးနှုန်းမှာ ၁၂% ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်း၏ သက်တမ်းကာလမှာ (၅)နှစ် ဖြစ်ပြီး နှစ်ဖက်သဘောတူညီချက်ဖြင့် (၂၅)နှစ်အထိ သက်တမ်းတိုးမြှင့် ဆောင်ရွက်ရန်ဖြစ်ပါသည်။ တည်ဆောက်ရေးကာလ (၁)နှစ် ဖြစ်ပါသည်။

၅။ လုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာမှာ ပျော်ဘွယ်မြို့နယ်၊ ချောင်းမကြီး၊ ဝါစိုက်ပျိုးရေးခြံ၏ မစိုက်ပျိုးနိုင်သော မြေဧရိယာ ၁၅.၅၇ဧကနှင့် ယင်းတော်ကျေးရွာအနီးတွင် ရှိသော ဝါကြိတ်စက်ရုံမြေ ၅.၃၁ ဧကတို့ ဖြစ်ပါသည်။

၆။ ရာနှုန်းပြည့် ရင်းနှီးမြှုပ်နှံမှုပုံစံဖြင့် ဆောင်ရွက်မည်ဖြစ်ပြီး၊ ကနဦး ရင်းနှီးမြှုပ်နှံမှု အမေရိကန် ဒေါ်လာ (၄.၅)သန်းနှင့် အဆင့်မြင့်ဝါကြိတ်စက်ရုံ တည်ဆောက်ခြင်း၊ ဝါစေ့ဆီကြိတ်စက်နှင့် ဆီသန့်စက်များ တည်ဆောက်ခြင်းလုပ်ငန်းများအား ဆောင်ရွက်သွားမည်ဖြစ်ပြီး ကြိတ်ဖတ်အမျိုးမျိုးမှ ဆီများကို စစ်ထုတ်သန့်စင်နိုင်မည့် တစ်နေ့လျှင် တန်(၁၀၀)ကျ ဆီသန့်စင်စက်ရုံကို လုပ်ငန်းစတင်ပြီး(၅)နှစ် အကြာတွင် အမေရိကန်ဒေါ်လာ (၁၀)သန်း ရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်သွားမည်ဖြစ်ပါ သည်။

၇။ ပထမ(၅)နှစ်အတွင်း ရင်းနှီးမြှုပ်နှံမည့်အစီအစဉ်မှာ မြေယာဖွံ့ဖြိုးတိုးတက်ရေး အမေရိကန်ဒေါ်လာ ၅၀,၀၀၀၊ အခြေခံ အဆောက်အဦး အမေရိကန်ဒေါ်လာ ၅၅၀,၀၀၀၊ စက်နှင့်စက်ကိရိယာ(ပြည့်စွက်ပစ္စည်း) အမေရိကန်ဒေါ်လာ ၂,၂၅၀,၀၀၀၊ စက်နှင့် စက်ကိရိယာ (အပိုပစ္စည်း) အမေရိကန်ဒေါ်လာ ၅၀၀,၀၀၀၊ မော်တော်ယာဉ် အမေရိကန်ဒေါ်လာ ၂၈၀,၀၀၀၊ ရုံးသုံးပရိဘောဂနှင့် ပစ္စည်းများ အမေရိကန်ဒေါ်လာ ၇၀,၀၀၀၊ ဝါစေ့ထည့်ရန်ဂုန်နီအိတ် အမေရိကန်ဒေါ်လာ ၁၆၀,၀၀၀၊ စက်မလည်မီသုံးစွဲစရိတ် အမေရိကန် ဒေါ်လာ ၁၄၀,၀၀၀၊ အစပိုင်း လုပ်ငန်းဆောင်ရွက်မှု မတည်ငွေ အမေရိကန်ဒေါ်လာ ၅၀၀,၀၀၀ နှင့် စုစုပေါင်း မတည်ရင်းနှီးမြှုပ်နှံမှု အမေရိကန်ဒေါ်လာ ၄,၅၀၀,၀၀၀ ဖြစ်ပါကြောင်း လယ်ယာစိုက်ပျိုး ရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ တင်ပြထားပါသည်။

၈။ နိုင်ငံတော်မှ မြေငှားရမ်းခရယူမည့် စနစ်အစား ထုတ်ကုန်အပေါ် အကျိုးအမြတ်ခွဲဝေခြင်း စနစ် Production Sharing System ဖြင့် နိုင်ငံခြားကုမ္ပဏီသည် စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာနသို့ တစ်နှစ်လျှင် အမေရိကန်ဒေါ်လာ ၅၀,၀၀၀ သို့မဟုတ် ထုတ်လုပ်သည့် ဂွမ်းတစ်တန်အတွက် အမေရိကန်ဒေါ်လာ ၂၅ဒေါ်လာနှင့် ၎င်းတို့အနက်မှ များသော တန်ဖိုးပမာဏကို ပေးချေရမည် ဖြစ်ပါသည်။

၉။ ထုတ်ကုန်များမှာ Lint, Edible Oil, De- Oiled Cake နှင့် Planting Seed တို့ ဖြစ်ပါသည်။ ပဉ္စမမြောက်နှစ်တွင် ထုတ်လုပ်မည့် အရေအတွက်မှာ Lint ၄၃၈၀ တန်၊ Edible Oil (Ltrs) ၁,၂၁၉, ၉၀၀ ၊ De-Oiled Cake ၉၄၂၇ တန်၊ Planting Seed ၇၅၀တန်နှင့် Planting Seed (5Kg- Bag) ၁၅၀,၀၀၀ တန် တို့ဖြစ်ပါသည်။ ထုတ်ကုန်များ၏ ၇၀% ကို ပြည်တွင်း၌ ရောင်းချ၍ ၃၀% ကို ပြည်ပသို့ ရောင်းချမည် ဟု ဖော်ပြထားပါသည်။

၁၀။ ရောင်းချမည့်ဈေးနှုန်းမှာ Lint တစ်တန်လျှင် အမေရိကန်ဒေါ်လာ ၁၄၅၀၊ Edible Oil တစ်လီတာလျှင် အမေရိကန်ဒေါ်လာ ၁.၀ ၊ De- Oiled Cake တစ်တန်လျှင် အမေရိကန်ဒေါ်လာ ၁၇၀ နှင့် Planting Seed တစ်အိတ်လျှင် အမေရိကန်ဒေါ်လာ ၄ ဒေါ်လာဖြစ်ပါသည်။

၁၁။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပဌမမြောက်နှစ်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | US$ (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၉.၈၂၀ |
| (ခ) | အသုံးစရိတ် | ၈.၇၁၆ |
| (ဂ) | အသားတင်အမြတ် | ၁.၁၀၄ |

၁၂။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၅ နှစ် ခန့်ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်းမှာ ၁.၂၄% ဖြစ်ပါသည်။

၁၃။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ၅၃၅ ဦးနှင့် ပြည်ပမှ ၉ ဦး၊ စုစုပေါင်း ၅၄၄ ဦး ခန့်ထားရန် လိုအပ်မည် ဖြစ်ကြောင်းဖော်ပြထားပါသည်။

၁၄။ Blue Ocean Global Private Ltd. ၏ ငွေကြေးအထောက်အထားအဖြစ် အိန္ဒိယနိုင်ငံ၊ မိုဘိုင်းမြို့၊ HDFC Bank ၏ (၁၈-၄-၂၀၁၂) ရက်စွဲပါစာဖြင့် Blue Ocean Global Private Ltd. သည် Account No. 12402560002413 ဖြင့် လက်ရှိလုပ်ငန်းဆောင်ရွက်နေသော ကုမ္ပဏီဖြစ်ပြီး ငွေရေးကြေးရေးကောင်းမွန်သော အခြေအနေတွင် ရှိကြောင်းဖော်ပြထားသည့် စာကိုတင်ပြထား ပါသည်။

၁၅။ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေ (၂၀) ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့် များကို ခံစားခွင့်ပြုရန် တင်ပြထားပါသည်။

၁၆။ သို့ပါ၍ Blue Ocean Myanmar Ltd. တည်ထောင်ပြီး မန္တလေးတိုင်းဒေသကြီး၊ ပျော်ဘွယ်မြို့၊ ချောင်းမကြီး၊ ဝါစိုက်ပျိုး ရေးခြံနှင့် ယင်းတော်ဝါကြိတ်စက်ရုံ တွင် အရည်အသွေးကောင်း ဝါမျိုးစေ့များ အဆင့်အတန်းမြင့် ထုတ်လုပ်ခြင်း၊ ဝါကြိတ်စက်နှင့် ဝါစေ့ဆီကြိတ်စက်များ အဆင့်မြင့် တင်ခြင်းလုပ်ငန်းများ ရင်းနှီးမြှုပ်နှံဆောင်ရွက် ခွင့်ပြုရန်တင်ပြခြင်းအပေါ် လမ်းညွှန်မှုခံယူအပ်ပါ သည်။

အတွင်းရေးမှူး(ကိုယ်စား)
(အောင်နိုင်ဦး၊ ညွှန်ကြားရေးမှူးချုပ်)